





# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊မနသ- ၁၂၆၂/၂၀၁၇ ၂၀၁၇ ခုနှစ် ဇူလိုင်လ ၁၄ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ (ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးဆာသရား

(ခ) **အဘ အမည်** ဦးအာလကဒူး

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၂/သခန(နိုင်) ၀၇၁၅၁၈

(ဃ) **နေရပ်လိပ်စာ** တိုက်အမှတ် (၆၅)၊ ဦးသက်တင်လမ်း၊ (၇) ရပ်ကွက်၊ သုံးခွမြို့နယ်၊ ရန်ကုန်မြို့

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း** မောင့်(န်)ထရက်ရှာကုမ္ပဏီ လီမိတက် (Mount Treasure Company Limited)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** ရောင်စုံအမိုးပြား၊ ကြမ်းခင်းပြားနှင့် C-Purlin မြားတန်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** မြေကွက်အမှတ် ၁၅၇၊ မြေတိုင်းရပ်ကွက် အမှတ် ၅၁၊ သာဓုကန်စက်မှုဇုန်၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ကျပ်သန်း ၉၈၃.၆၅ (US$ ၀.၀၁၆ သန်း အပါအဝင်) (ကျပ် ကိုးရာရှစ်ဆယ့်သုံးသန်း ခြောက်သိန်း ငါးသောင်းတိတိ)

(ဈ) **တည်ဆောက်မှုကာလ** ၂ နှစ်

14-7-17

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်




**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**
အမိန့်ကြော်ငြာစာအမှတ်၊ ၆၅ /၂၀၁၇(မနသ)
၂၀၁၇ ခုနှစ် ဇူလိုင်လ ၂၄ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော မောင့်(န်ထ်)ထရက်ရှာကုမ္ပဏီလီမိတက် (Mount Treasure Company Limited) သည် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ သာဓုကန်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် ၅၁၊ မြေကွက်အမှတ် ၁၅၇ ရှိ မြေဧရိယာ ၁.၁၃၆ ဧက (၄၅၉၇.၂၃ စတုရန်းမီတာ) တွင် ရောင်စုံအမိုးပြား၊ ကြမ်းခင်းပြားနှင့် C-Purlin မြှားတန်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်ကို ၂၀၁၇ ခုနှစ် ဇွန်လ ၁၆ ရက်နေ့တွင် ကျင်းပပြုလုပ်သော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၉/၂၀၁၇) အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်းဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ (ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် မောင့်(န်ထ်)ထရက်ရှာကုမ္ပဏီလီမိတက် (Mount Treasure Company Limited) ကို ရောင်စုံအမိုးပြား၊ ကြမ်းခင်းပြားနှင့် C-Purlin မြှားတန်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ- ၁၂၆၂/၂၀၁၇ ကိုထုတ်ပေးလိုက်သည်။

၂။ မောင့်(န်ထ်)ထရက်ရှာကုမ္ပဏီလီမိတက် (Mount Treasure Company Limited)သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ် ၁၂၃/၂၀၁၆ (၁၆-၁၁-၂၀၁၆) အရ သတ်မှတ်ထားသောကာလအတွင်းတင်ပြခဲ့သဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၁၁) အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က)ဥပဒေပုဒ်မ ၂၀(က)အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သော နှစ်အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ )ဥပဒေပုဒ်မ ၂၀(ဂ) အရ လုပ်ငန်းမှ ရရှိသောအမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်းလုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန်ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည်ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ )ဥပဒေပုဒ်မ ၂၀(ဃ) အရ လုပ်ငန်းက ထုတ်လုပ်သည့်ပစ္စည်းကို ပြည်ပသို့ တင်ပို့ရောင်းချလျှင် ထိုသို့တင်ပို့ရောင်းချ၍ရရှိသော အမြတ်ငွေပေါ်တွင် ၅၀ ရာခိုင်နှုန်းအထိ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန် အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် (၅)နှစ် ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ်အကောင်အထည်ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ)ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကိုယင်းသို့ အရှုံးပေါ်ပေါက်သည့်နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င )ဥပဒေပုဒ်မ ၂၀ (ဆ) အရ လုပ်ငန်းစတင်တည်ဆောက်မှုကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ တင်သွင်းသော ယာဥ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင်တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်းအခွန်အကောက်များဖြစ်စေ၊ နှစ်မျိုးစလုံးဖြစ်စေ၊ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ )ဥပဒေပုဒ်မ၂၀(ဇ)အရ ဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ ယာဥ်ယန္တရား၊ စက်ပစ္စည်းကိရိယာ၊ အဆောက်အဦ သို့မဟုတ် လုပ်ငန်းသုံးအခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျှော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျှော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့် စပ်လျဥ်း၍ ယင်းတန်ဖိုးလျှော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဆ)ဥပဒေပုဒ်မ၂၀(ဈ)အရ လုပ်ငန်းတည်ဆောက်မှု ပြီးစီး၍ ပထမသုံးနှစ်အတွက် ကုန်ထုတ်လုပ်ရန် တင်သွင်းသည့် ကုန်ကြမ်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြား ပြည်တွင်း အခွန်အကောက်များ ဖြစ်စေ၊ နှစ်မျိုးလုံးကိုဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဇ )ဥပဒေပုဒ်မ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဥ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင်တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဈ) ဥပဒေပုဒ်မ ၂၀(ဠ)အရ ပြည်ပသို့တင်ပို့ရန် ထုတ်လုပ်သည့် ပစ္စည်းများအပေါ် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀ (ဆ) အရ ပြည်ပမှ တင်သွင်းသည့် ယာဥ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင်တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှုစသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာအသိအမှတ် ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ မောင့်(န်ထ်)ထရက်ရှာကုမ္ပဏီလီမိတက် (Mount Treasure Company Limited) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ဖော်ပြထားသည့် **ထုတ်လုပ်မှုရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ** အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ မောင့်(န်ထ်)ထရက်ရှာကုမ္ပဏီလီမိတက် (Mount Treasure Company Limited) သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၆။ မောင့်(န်ထ်)ထရက်ရှာကုမ္ပဏီလီမိတက် (Mount Treasure Company Limited) သည် အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးတို့အတွက် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination- IEE) နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) တို့ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်းဆောင်ရွက် ပြီးစီးမှု အခြေအနေကို ကော်မရှင်နှင့် သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနတို့သို့ ပေးပို့အစီရင်ခံရမည်။

၇။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာလိုက်နာဆောင်ရွက်ရမည်။

၈။ မောင့်(န်ထ်)ထရက်ရှာကုမ္ပဏီလီမိတက် (Mount Treasure Company Limited)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမားဆက်ဆံရေး ပြေလည်စေရန် အလေးထားဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၉။ မောင့်(န်ထ်)ထရက်ရှာကုမ္ပဏီလီမိတက် (Mount Treasure Company Limited) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြု ထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။ ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဗူးများကဲ့သို့ မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်မှု ဆောင် ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေးလုပ်ငန်းသုံးပစ္စည်းများကို အသုံးပြုတတ် စေရန် သင်တန်းများပေးရမည်။

၁၀။ ထို့ပြင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထား သည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်း ကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ အခြားသောပတ်ဝန်းကျင်ထိန်းသိမ်း ရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၁။ မောင့်(န်ထ်)ထရက်ရှာကုမ္ပဏီလီမိတက် (Mount Treasure Company Limited) သည် ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေအရ ရန်ကုန်တိုင်းဒေသကြီး စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေး ရေးဦးစီးဌာနတွင် ပုဂ္ဂလိကစက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိဆောင်ရွက်ရမည်။

၁၂။ မောင့်(န်ထ်)ထရက်ရှာကုမ္ပဏီလီမိတက် (Mount Treasure Company Limited) သည် ကနဦးလုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး (သုံး) လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်းအကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃) လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန် ပေးပို့အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့်နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာ နှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၄။ မောင့်(န်ထ်)ထရက်ရှာကုမ္ပဏီလီမိတက် (Mount Treasure Company Limited) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် သက်ဆိုင်ရာဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲစည်းမျဥ်းစည်းကမ်း သတ်မှတ်ချက်များနှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်။

၁၅။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့် လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင် တို့ကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရ ဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၂(င)အရ နောင်တွင်မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက် စီးပွားရေးလုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၆။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်) နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူ ရမည်။

14.7.17

(ကျော်ဝင်း)
ဥက္ကဋ္ဌ

စာအမှတ်၊ မရက-၃ /မ-၁၄၄၁/၂၀၁၇ (၆၂၅-၈)
ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဇူလိုင်လ ၁၄ ရက်

**ဖြန့်ဝေခြင်း**

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

ပြည်ထဲရေးဝန်ကြီးဌာန

သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားမှုဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများ မော်ကွန်းတိုက်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

အုပ်ချုပ်မှုဒါရိုက်တာ၊ မောင့်(န်ထ်)ထရက်ရှာကုမ္ပဏီလီမိတက် (Mount Treasure Company Limited)

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် တင်ပြလာသော မောင့်(န်ထ်)ထရက်ရှာကုမ္ပဏီလီမိတက်
(Mount Treasure Co., Ltd.) ၏ ကော်မရှင်အစည်းအဝေးသို့ တင်ပြရန် ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁။ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၂၁-၁၂-၂၀၁၆ | | |
| ၂။ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၇-၂-၂၀၁၇ | | |
| | (ပထမအကြိမ်) | ၂၂-၃-၂၀၁၇ | ၅-၆-၂၀၁၇ | |
| | (ခ) သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန | ၇-၂-၂၀၁၇ | ၁၅-၂-၂၀၁၇ | |
| | (ဂ) စက်မှုဝန်ကြီးဌာန | ၇-၂-၂၀၁၇ | ၂၃-၂-၂၀၁၇ | |
| ၃။ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး ၄၈/၂၀၁၆ သို့ တင်ပြခြင်း | ၂၆-၁၂-၂၀၁၆ | | |
| ၄။ | အဆိုပြုလွှာ လက်ခံကြောင်းစာပေးပို့ခြင်း | ၃၀-၁၂-၂၀၁၆ | | |
| ၅။ | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ အစည်းအဝေးဆုံးဖြတ်ချက်ပြန်ကြားခြင်း | ၂-၁-၂၀၁၇ | | |
| ၆။ | အဆိုပြုလွှာပြန်လည်ပေးပို့ခြင်း | ၂၄-၃-၂၀၁၇ | | |
| ၇။ | အဆိုပြုလွှာ ပြန်လည်တင်ပြလာခြင်း | | ၉-၆-၂၀၁၇ | |
| ၈။ | ကုမ္ပဏီမှ အဆိုပြုလွှာ (၁၀) စုံ ပေးပို့ခြင်း | | ၉-၆-၂၀၁၇ | |
| | **စုစုပေါင်းကြာမြင့်ရက် ၁၇၀ ရက်*** | | | |

***ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့မှ သဘောထားမှတ်ချက်ပြန်ကြားရန် ကြန့်ကြာနေပါ၍ ရက်ပေါင်း ၁၇၀ ရက် ကြာမြင့်ရခြင်းဖြစ်ပါသည်။**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် မောင့်(န်ထ်)ထရက်ရှာကုမ္ပဏီလီမိတက် တည်ထောင်၍ ရောင်စုံအမိုးပြား၊ ကြမ်းခင်းပြားနှင့် C- Purlin မြှားတန်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁ | ကုမ္ပဏီအမည် | - မောင့်(န်ထ်)ထရက်ရှာကုမ္ပဏီလီမိတက် |
| ၂ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးဆာသရား (အဘ-ဦးအာလကဒူး) |
| ၃ | အဆိုပြုလုပ်ငန်းအမျိုးအစား | - ရောင်စုံအမိုးပြား၊ ကြမ်းခင်းပြားနှင့် C- Purlin မြှားတန်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၄ | လုပ်ငန်းတည်နေရာ | - မြေကွက်အမှတ် ၁၅၇၊ မြေတိုင်းရပ်ကွက်အမှတ် ၅၁၊ သာခုကန်စက်မှုဇုန်၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| | မြေပိုင်ရှင် | - ဦးဆာသရား |
| | မြေအကျယ်အဝန်း | - ၁.၁၃၆ ဧက (၄၅၉၇.၂၃ စတုရန်းမီတာ) |
| | အဆောက်အဦအကျယ်အဝန်း | - ၆၀ ပေ x ၁၂၀ ပေ နှင့် ၉၀ ပေ x ၁၂၀ ပေ တစ်ထပ် အဆောက်အဦ (၂) လုံး |
| ၅ | စုစုပေါင်းမတည်ငွေရင်း | - **ကျပ် ၉၈၃.၆၅ သန်း (အမေရိကန်ဒေါ်လာ ၀.၁၃၆ သန်း အပါအဝင်)** |
| | | **(ကျပ် သန်း)** |
| | - ငွေပမာဏ | ၁၀၀.၀၀ |
| | - စက်ပစ္စည်းကိရိယာ (ပြည်တွင်း) | ၈၆.၇၀ |
| | - စက်ပစ္စည်းကိရိယာ (ပြည်ပ) | ၄၈၇.၃၅ (အမေရိကန်ဒေါ်လာ ၀.၁၃၆ သန်း) |
| | - အဆောက်အဦတန်ဖိုး | ၃၀၀.၀၀ |
| | - ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းတန်ဖိုး | ၉.၆၀ |
| | - **စုစုပေါင်း** | **၉၈၃.၆၅ (အမေရိကန်ဒေါ်လာ ၀.၁၃၆ သန်း အပါအဝင်)** |
| ၆ | တည်ဆောက်ရေးကာလ | - ၂ နှစ် |
| ၇ | ရောင်းချမည့်နည်းစနစ် | - ပြည်တွင်း ၁၀၀ % ရောင်းချခြင်း |
| ၈ | ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်း (၆နှစ်မြောက်) | - |

| **အမျိုးအစား** | **ရေတွက်ပုံ** | **ထုတ်လုပ်မှု** | **ရောင်းဈေးနှုန်း (Kyat/Ton)** |
|---|---|---|---|
| C-Purlin | Ton | ၁၁,၄၁၀ | ၁,၀၇၀,၀၀၀ |
| Color Roofing Sheet | Ton | ၁၀,၉၉၀ | ၁,၁၅၅,၀၀၀ |
| Decking Sheet | Ton | ၁၂,၂၅၀ | ၁,၀၇၅,၀၀၀ |

| | | |
|---|---|---|
| ၁၀ | ကုမ္ပဏီဝင်ငွေ(၆ နှစ်မြောက်)<br>ကုမ္ပဏီအသုံးစရိတ်(၆ နှစ်မြောက်)<br>ကုမ္ပဏီအသားတင်အမြတ်(၆နှစ်မြောက်)<br>ဝန်ထမ်းအင်အားစုစုပေါင်း(ပထမနှစ်)<br>ပြည်တွင်း | - ကျပ် ၃၈,၀၇၀.၉၀ သန်း<br>- ကျပ် ၃၃,၇၈၇.၉၂ သန်း<br>- ကျပ် ၄,၂၈၂.၉၈ သန်း<br>- **၇၁ ဦး**<br>- ၇၁ဦး (ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၂၅,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၃၀၅,၀၀၀) |
| ၁၂ | အရင်းကြေကာလ | - ၇ နှစ် ၁၁ လ |
| ၁၃ | အရင်းအနှီးပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၁၄.၅၈ % |
| ၁၄ | နိုင်ငံတော်မှ ရရှိမည့်အကျိုးအမြတ်<br>(၆ နှစ်မြောက်)<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန် | <br><br>- ကျပ် ၁,၄၂၇.၆၆ သန်း<br>ကျပ် ၁,၉၀၃.၅၅ သန်း (၁ US$ = ၁၃၅၀ ကျပ်) |
| ၁၅ | နှစ်စဉ်လျှပ်စစ်ဓာတ်အားလိုအပ်ချက် | - ၅၀,၀၀၀ kWh |
| ၁၆ | ငွေကြေးအထောက်အထား | - မောင့်(န်ထ်)ထရက်ရှာကုမ္ပဏီလီမိတက်သည် ၁၄-၇-၂၀၁၆ နေ့တွင်မြန်မာနိုင်ငံခြားကုန်သွယ်မှုဘဏ်၌US$၄၇,၈၇၇.၉၆ ရှိကြောင်းနှင့် ၂၀-၁၂-၂၀၁၆ နေ့တွင် ယူနိုက်တက်အမရ ဘဏ်လီမိတက်၌ US$ ၄၀၇.၈၆ ရှိကြောင်း အထောက်အထားမိတ္တူတင်ပြထားပါသည်။ |
| ၁၇ | CSR | - ၂ % |
| ၁၈ | အခြား | - ကုမ္ပဏီမှ ထွက်ရှိသော ထုတ်ကုန်များကို ရတနာတောင် အမှတ်တံဆိပ်ဖြင့် ဖြန့်ဖြူးရောင်းချမည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- ကုမ္ပဏီသည် စက်ပစ္စည်းများနှင့် ကုန်ကြမ်းပစ္စည်းများကို ဗီယက်နမ်၊ ထိုင်ဝမ်နှင့် တရုတ်ပြည်သူ့သမ္မတနိုင်ငံတို့မှ တင်သွင်းမည် ဖြစ်ပါသည်။ |

| | |
|---|---|
| ကုမ္ပဏီအမည် | - မောင့်(န်ထ်)ထရက်ရှာကုမ္ပဏီလီမိတက် (Mount Treasure Co., Ltd.) |
| အဖွဲ့အစည်းပုံသဏ္ဌာန် | - မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - ရောင်စုံအမိုးပြား၊ ကြမ်းခင်းပြားနှင့် C- Purlin မြှားတန်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| တည်နေရာ | - မြေကွက်အမှတ် ၁၅၇၊ မြေတိုင်းရပ်ကွက်အမှတ် ၅၁၊ သာဓုကန်စက်မှုဇုန်၊ ရွှေပြည်သာ မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၉၈၃.၆၅ သန်း (US$ ၀.၇၃၆ သန်းအပါအဝင်) |
| ရောင်းချမည့်စနစ် | - ပြည်တွင်း၌ ၁၀၀ % ရောင်းချခြင်း |
| အရင်းကြေကာလ | - ၇ နှစ် ၁၁ လ |
| IRR | - ၁၄.၅၈% |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစု တင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၂.၁၆ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၀.၆၇ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ် ၀.၄၉ သန်း | |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | - | ကျပ် ၉၃၇၄.၄၀ သန်း |
| ၅ | ဝင်ငွေခွန် | ကျပ် ၁၅၉၃.၆၄ သန်း | ကျပ် ၇၄၂၃.၈၃ သန်း |
| ၆ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | ကျပ် ၄၆၃.၈၂ သန်း |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ် ဝင်ငွေ ကျပ် ၄၈ သိန်းကျော်ပါက အခွန်ပေးရမည့် ဝန်ထမ်း (၄) ဦး |
| ၈ | CSR (၂ %) | | ကျပ် ၂၄၅.၂၂ သန်း |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၇၁ ဦး<br>ပြည်တွင်းလုပ်သား (၇၁) ဦး အလုပ်အကိုင်ရရှိမည်ဖြစ်၍ ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။<br>အလုပ်အကိုင်အခွင့်အလမ်းများ ပိုမိုရရှိ စေပြီး<br>ဆင်းရဲနွမ်းပါးမှုလျော့ချရေးကို အထောက်အကူပြုစေနိုင်ပါသည်။ |
| | | ကျပ် ၁၅၉၆.၂၉ သန်း | ကျပ် ၉၅၇၇.၇၄ သန်း |
| | | | ၁ : ၆ |

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၃/မ-၁၄၄၁/၂၀၁၇( ၅၇၀ )

ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဇွန်လ ၉ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် မောင့်(န်ထ်)ထရက်ရှာကုမ္ပဏီလီမိတက် တည်ထောင်၍ ရောင်စုံအမိုးပြား၊ ကြမ်းခင်းပြားနှင့် C- Purlin မြှားတန်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

၁။ မောင့်(န်ထ်)ထရက်ရှာကုမ္ပဏီလီမိတက် (Mount Treasure Co., Ltd.) သည် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ သာခုကန်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် ၅၁၊ မြေကွက်အမှတ် ၁၅၇ ရှိ မြေဧရိယာ ၁.၁၃၆ ဧက (၄၅၉၇.၂၃ စတုရန်းမီတာ) ၌ ရောင်စုံအမိုးပြား၊ ကြမ်းခင်းပြားနှင့် C- Purlin မြှားတန်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဆာသရား (အဘ-ဦးအာလကဒူး) မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မောင့်(န်ထ်)ထရက်ရှာကုမ္ပဏီလီမိတက်(Mount Treasure Co., Ltd.) ၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်အမှတ် ၂၇၄၈/၂၀၁၄-၂၀၁၅ (မိတ္တူ)၊ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများ၊ လုပ်ငန်းထုတ်လုပ်မှုလုပ်ငန်းအစီအစဉ်တို့အား တင်ပြထားပါသည်။

၃။ လုပ်ငန်း တည်ဆောက်ရေးကာလမှာ ၂ နှစ် ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။ ကိုယ်ပိုင်မြေပေါ်တွင် လုပ်ငန်းဆောင်ရွက်မည်ဖြစ်ပါသည်။

၄။ လုပ်ငန်း၏ မတည်ငွေရင်းပမာဏမှာ ကျပ် ၉၈၃.၆၅ သန်း (US$ ၀.၀၃၆ သန်း အပါအဝင်) ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | ထည့်ဝင်သည့်အမျိုးအစား | ကျပ် (သန်း) |
|---|---|---|
| (က) | ငွေသား | ၁၀၀.၀၀ |
| (ခ ) | စက်နှင့် စက်ပစ္စည်း (ပြည်တွင်း) | ၈၆.၇၀ |
| (ဂ ) | စက်နှင့် စက်ပစ္စည်း (ပြည်ပ) | ၄၈၇.၃၅ (US$ ၀.၀၃၆ သန်း အပါအဝင်) |
| (ဃ) | အဆောက်အဦတန်ဖိုး | ၃၀၀.၀၀ |
| (င ) | ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းတန်ဖိုး | ၉.၆၀ |
| **စုစုပေါင်းမတည်ငွေရင်းပမာဏ** | | **၉၈၃.၆၅(US$ ၀.၀၃၆ သန်း အပါအဝင်)** |

ကန့်သတ်

၅။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှ ဝန်ထမ်း ၇၀ ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်းမှ ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၂၅,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် ၃၀၅,၀၀၀ ဖြစ်ပါသည်။

၆။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိသော ကုန်ချောများကို ပြည်တွင်း၌ ၁၀၀ % ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ် (၆ နှစ်မြောက်) တွင် ထုတ်လုပ်မှုအရေအတွက်နှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| အမျိုးအမည် | ရေတွက်ပုံ | ထုတ်လုပ်မှု | ရောင်းဈေးနှုန်း (Kyat/Ton) |
|---|---|---|---|
| C-Purlin | Ton | ၁၁,၄၁၀ | ၁,၀၇၀,၀၀၀ |
| Color Roofing Sheet | Ton | ၁၀,၉၉၀ | ၁,၁၅၅,၀၀၀ |
| Decking Sheet | Ton | ၁၂,၂၅၀ | ၁,၀၇၅,၀၀၀ |

၇။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ကုမ္ပဏီမှ ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | ကျပ် (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၃၈,၀၇၀.၉၀ |
| (ခ) | အသုံးစရိတ် | ၃၃,၇၈၇.၉၂ |
| (ဂ) | အသားတင်အမြတ် | ၄,၂၈၂.၉၈ |

၈။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆ နှစ်မြောက်) တွင် ရရှိမည့် အကျိုးအမြတ်ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၁,၄၂၇.၆၆ သန်းနှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၁,၉၀၃.၅၅ သန်း ရရှိမည် ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ အရင်းကြေကာလမှာ ၇ နှစ် ၁၁ လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၁၄.၅၈ % ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာတစ်ဒေါ်လာလျှင် ၁၃၅၀ ကျပ် နှုန်းဖြင့် တွက်ချက်ထားပါသည်။

၉။ အဆိုပြုချက်နှင့်စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနနှင့် စက်မှုဝန်ကြီးဌာနများသို့ သဘောထားတောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထားပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့မှ** အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ၁-၆-၂၀၁၇ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် ၂၀/၂၀၁၇ ၊ ဆုံးဖြတ်ချက်အပိုဒ် ၄၂ အရ ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ (က)**

(ခ) **သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန မှ** အဆိုပြု လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန်ကိစ္စနှင့် ပတ်သက်၍ ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးအတွက် **ကနဦး ပတ်ဝန်းကျင်ဆန်းစစ်ခြင်း** ( Initial Environmental Examination-IEE) နှင့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** (Environmental Management Plan-EMP) ရေးဆွဲဆောင်ရွက်ရန် သဘောထားမှတ်ချက်ပြန်ကြားထားပါသည်။ **ကုမ္ပဏီမှ သဘောထားမှတ်ချက်နှင့်အညီ ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိ တင်ပြထားပါသည်။** **နောက်ဆက်တွဲ (ခ)**

(ဂ) **စက်မှုဝန်ကြီးဌာနမှ** အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ကန့်ကွက်ရန် မရှိပါ ကြောင်း သဘောထားမှတ်ချက်ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ (ဂ)**

၁၀။ ငွေရေးကြေးရေးအထောက်အထားအဖြစ် မောင့်(န်ထ)ထရက်ဂျာကုမ္ပဏီလီမိတက်သည် ၁၄-၇-၂၀၁၆ နေ့တွင် မြန်မာနိုင်ငံခြားကုန်သွယ်မှုဘဏ်၌ US$ ၄၇,၈၇၇.၉၆ ရှိကြောင်းနှင့် ၂၀-၁၂-၂၀၁၆ နေ့တွင် ယူနိုက်တက်အမရာဘဏ်လီမိတက်၌ US$ ၄၀၇.၈၆ ရှိကြောင်း အထောက်အထားမိတ္တူတင်ပြထားပါသည်။

၁၁။ **မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်**နှင့် ပတ်သက်၍ မီးဘေးအန္တရာယ်ကြိုတင် ကာကွယ်ရေးအစီအမံများ တင်ပြထားပါသည်။

၁၂။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှုမရှိကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပွားစေရန် အတွက် လိုအပ်သောအစီအမံများ ဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ ဝန်ထမ်းများ၏ လစာနှင့် ပတ်သက်၍ နိုင်ငံတော်မှ ချမှတ်ထားသော လစာဝင်ငွေခွန် ဥပဒေအတိုင်း ဝင်ငွေခွန်ပေးသွင်း မည်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၃။ ဝန်ထမ်းသက်သာချောင်ချိရေးနှင့် လုပ်ငန်းခွင်သာယာရေးအတွက် ဝန်ထမ်းများ အတွက် အကြို/အပို့ယာဉ်များ စီမံထားရှိပေးခြင်း၊ လူမှုဖူလုံရေးကြေးသွင်းပေးခြင်း၊ ဆေးကုသ ရန်အတွက် အခမဲ့ဆေးခန်းထားရှိပေးခြင်း၊ ဝန်ထမ်းများ နားနေခန်းထားရှိပေးခြင်း၊ ထမင်း စားဆောင် ထားရှိပေးခြင်း၊ ဗဟုသုတကြွယ်ဝစေရန် စာကြည့်တိုက်ထားရှိပေးခြင်း၊ သက်သာ ချောင်ချိရေး ထမင်းဆိုင်ထားရှိ၍ အကျိုးအမြတ်မယူပဲ ထမင်း၊ ဟင်းရောင်းချပေးခြင်းအပြင် အချို့သော အရံဟင်းများကို အခမဲ့ကျွေးမွေးမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၄။ လုပ်ငန်းဆောင်ရွက်ရာတွင် လျှပ်စစ်ဓါတ်အားကို နိုင်ငံတော်မှ ဖြန့်ဖြူးပေးသည့် ပင်မ လျှပ်စစ်ဓါတ်အားလိုင်းမှ ရယူမည့်အပြင် ကိုယ်ပိုင်မီးစက် Generator 250 KVA (၁) လုံးဖြင့် လျှပ်စစ်ဓါတ်အားရယူ သုံးစွဲသွားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၅။ ကုမ္ပဏီမှ နှစ်စဉ် အသားတင်အမြတ်၏ ၂ % ကို လူမှုအကျိုးပြုလုပ်ငန်း (Corporate Social Responsibility -CSR) အတွက် အသုံးပြုမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၁၆။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၆ ခုနှစ် ဒီဇင်ဘာလ ၂၆ ရက်နေ့တွင် ကျင်းပပြုလုပ် သော (၄၈/၂၀၁၆) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

**စိစစ်တင်ပြချက်**

၁၇။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသော ထုတ်ကုန်ပစ္စည်းများကို ရတနာတောင် အမှတ်တံဆိပ်ဖြင့် ဖြန့်ဖြူးရောင်းချသွားမည်ဖြစ်ကြောင်း တင်ပြထားပါ သည်။

(ခ) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာ ဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် အမိန့်ကြော်ငြာစာ (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီး ဖြစ်ပါသည်။

(ဂ) အဆိုပြုလုပ်ငန်းများသည်ကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ် ၁၂၃/၂၀၁၆ (၁၆-၁၁-၂၀၁၆) အရ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံသား များ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ အဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့်ကို ၂၁-၁၂-၂၀၁၆ ရက်စွဲ ဖြင့်တင်ပြခဲ့ပြီး ၎င်းဥပဒေအရ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့် ခံစားခွင့်ပြုရန် တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၈။ မောင့်(န်ထ်)ထရက်ရှာကုမ္ပဏီ လီမိတက် (Mount Treasure Co., Ltd.) သည် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ သာဓုကန်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် ၅၁၊ မြေကွက်အမှတ် ၁၅၇ ရှိ မြေဧရိယာ ၁.၁၃၆ ဧက (၄၅၉၇.၂၃ စတုရန်းမီတာ) ၌ ရောင်စုံ အမိုးပြား၊ ကြမ်းခင်းပြားနှင့် C- Purlin မြှားတန်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသား များ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## တိုင်းဒေသကြီးအစိုးရအဖွဲ့
## ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဇွန် လ ၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၇.၂.၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၃/ မ-၁၄၄၁/၂၀၁၇(၂၂၀)

၁။ မောင့်(န်ထ်)ထရက်ရှာကုမ္ပဏီလီမိတက်(Mount Treasure Co., Ltd.)သည် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ သာဓုကန်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်-၅၁၊ မြေကွက်အမှတ်-၁၅၇ရှိ မြေဧရိယာ ၁.၁၃၆ ဧက (၄၅၉၇.၂၃ စတုရန်းမီတာ)၌ ရောင်စုံအမိုးပြား၊ ကြမ်းခင်းပြားနှင့် C-Purlin မြားတန်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ၁.၆.၂၀၁၇ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၂၀/၂၀၁၇)၊ ဆုံးဖြတ်ချက်အပိုဒ် (၄၂)အရ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ် (ကိုယ်စား)
( နော်ပန်းသဉ္ဇာမျိုး၊ ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး )

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ရွှေပြည်သာမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
မောင့်(န်ထ်)ထရက်ရှာကုမ္ပဏီလီမိတက်
လက်ခံစာတွဲ/မျှောစာတွဲ



ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ဝ၀၁/ MIC(OSS) /၀၁(၇၈ /၁၇ )
ရက် စွဲ ၊ ၂၀၁၇ ခုနှစ် ဖေဖော်ဝါရီလ ၁၅ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Mount Treasure Co., Ltd. မှ ရောင်စုံအမိုးပြား၊ ကြမ်းခင်းပြားနှင့် C-Purlin မြှားတန်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

၁၃၇
၁၅ | ၂

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၇-၂-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက- ၃/ မ- ၁၄၄၀/ ၂၀၁၇ (၂၂၂)

၁။ မောင့်(န်ထ်)ထရက်ရှာကုမ္ပဏီလီမိတက် (Mount Treasure Co., Ltd.) သည် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ သာခုကန်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်- ၅၁၊ မြေကွက်အမှတ်- ၁၅၇ ရှိ မြေဧရိယာ ၁.၁၃၆ ဧက (၄၅၉၇.၂၃ စတုရန်းမီတာ) ပေါ်တွင် ရောင်စုံအမိုးပြား၊ ကြမ်းခင်းပြားနှင့် C- Purlin မြှားတန်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ ပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များအား လေ့လာတွေ့ရှိရပါသည် -

(က) ကနဦးရင်းနှီးမြှုပ်နှံမှု ကာလမှာ (၅၀) နှစ်ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ် ဆောင်ရွက်မည်ဖြစ်ပြီး လုပ်ငန်းတည်ဆောက်မည့် ကာလမှာ (၂) နှစ် ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းမှ ကုန်ပစ္စည်းထုတ်လုပ်မှုအနေဖြင့် နှစ်စဉ်စုစုပေါင်းတန်ချိန် (၃) သောင်းကျော်ထုတ်လုပ်သွားမည် ဖြစ်ကြောင်း၊

(ဂ) လုပ်ငန်းခွင်သာယာရေးနှင့် သက်သာချောင်ချိရေးစီမံချက်၊ မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်များကိုလည်း ထားရှိဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဃ) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည်ဖြစ်ကြောင်း၊

(င) သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် လုပ်ငန်းခွင်အတွင်း သန့်စင်ခန်းများထားရှိခြင်း၊ ရေအလုံအလောက်အသုံးပြုစေခြင်း၊ အမှိုက်စွန့်ပစ်ရန်နေရာများထားရှိခြင်း၊ လုပ်ငန်းပတ်ဝန်းကျင်ကိုသန့်ရှင်းရေးလုပ်ငန်းများဆောင်ရွက်ခြင်း၊ ရေနုတ်မြောင်းများကို ရေစီးရေလာကောင်းမွန်အောင်ပြုပြင်ခြင်းလုပ်ငန်းများကို အစဉ်ပြုလုပ်မည်ဖြစ်ပါကြောင်း ဖော်ပြပါရှိပါသည်။

၃။ အဆိုပြုလုပ်ငန်းများဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) Mount Treasure Co., Ltd. မှ ရောင်စုံအမိုးပြား၊ ကြမ်းခင်းပြားနှင့် C- Purlin မြားတန်းများ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ရာတွင် အသုံးပြုမည့် ကုန်ကြမ်းပစ္စည်းများသည့် ဆွေးမြေ့ပျက်စီးရန် အချိန်ကြာမြင့်သဖြင့် မြေထုညစ်ညမ်းခြင်း၊

(ခ) ကုန်ကြမ်း ပစ္စည်းများကို အသုံးပြုရာမှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများ၊ စွန့်ပစ်အရည်များကြောင့် ပတ်ဝန်းကျင် ရှိမြေထုနှင့် ရေထုညစ်ညမ်းမှု ဖြစ်ပေါ်စေခြင်း၊

(ဂ) ထုတ်လုပ်မှု လုပ်ငန်းအဆင့်ဆင့်တွင် စက်ပစ္စည်းများကို အသုံးပြုပြီး၊ လုပ်ငန်းသုံးယာဉ်ယန္တရားများ၏ စွန့်ပစ်အမဲဆီ၊ အင်ဂျင်ဝိုင်နှင့် ဖိတ်စင် စက်သုံးဆီများ၊ ဆူညံသံများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊

(ဃ) အလုပ်သမားများ၏ စွန့်ပစ်ပစ္စည်းများနှင့် မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊

(င) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်ထိခိုက်နိုင်မှုများနှင့်စပ်လျဉ်း၍ အထက်ဖော်ပြပါ လေအရည်အသွေး၊ အသံဆူညံမှု၊ စွန့်ပစ်ပစ္စည်းထွက်ရှိမှု၊ ဘေးအန္တရာယ်ကျရောက်နိုင်မှု၊ လူမှုစီးပွားရေးနှင့် ဂေဟစနစ်များအပေါ် ထိခိုက်မှုရှိနိုင်ပါသဖြင့် ပတ်ဝန်းကျင်ထိခိုက်မှုဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Mount Treasure Co., Ltd. မှ ရောင်စုံအမိုးပြား၊ ကြမ်းခင်းပြားနှင့် C- Purlin မြားတန်းများထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့် လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကိုပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility - CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂%) အား အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျလိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းကြောင့်ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးအတွက် **ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း** (Initial Environmental Examination - IEE) ကို ဆောင်ရွက်ပြီးပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များပါအတိုင်း အစီရင်ခံစာရေးသားတင်ပြရန်၊

(ဂ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်ညည့်

အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP)** ကိုပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်းအကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဃ) စီမံကိန်းဆောင်ရွက်မည့်သူများအနေဖြင့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီစဉ်များ၊ အစီရင်ခံစာများရေးသားပြုစုရာတွင် ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာ ဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သောဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်။

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၁၃-စမ(၂)၂၀၁၆-၂၀၁၇(၃၁၁၁)
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၇.၂.၂၀၁၇ ရက်စွဲပါ စာအမှတ်၊ မရက-၃/ မ-၁၄၄၁/ ၂၀၁၇(၂၂၁)

၁။ မောင့်(န်ထ်)ထရက်ရှာကုမ္ပဏီလီမိတက်မှ ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ သာဓုကန်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၅၁)၊ မြေကွက်အမှတ်(၁၅၇)တွင် ရောင်စုံအမိုးပြား၊ ကြမ်းခင်းပြားနှင့် C-Purlin မြှားတန်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန်လိုအပ်ပါသည်။

(ခ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်နှင့် ၎င်းအစီအမံအတွက် အသားတင်အမြတ်ငွေ၏ ၁ % သုံးစွဲရန် လိုအပ်ပါသည်။

(ဂ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) GI Coil ၊ Colour Coil အရွယ်အစားမျိုးစုံမှ စက်မှုဆိုင်ရာ အဆောက်အဦ၊ လူနေအဆောက်အဦများတွင် အသုံးပြုမည့် ရောင်စုံအမိုးပြား၊ ကြမ်းခင်းပြားနှင့်

C-Purlin မြှားတန်းများ ထုတ်လုပ်ရောင်းချမည့်လုပ်ငန်းဖြစ်၍ နိုင်ငံတော်တည်ဆောက်ရေးအတွက် အထောက်အကူပြု စက်ရုံငယ်တစ်ခုဖြစ်ပါသည်။

( င ) GI Coil ၊ Colour Coil များအား Import လုပ်မည်ဖြစ်၍ ထုတ်လုပ်မှုနည်းစဉ်တွင် Cutting Line ၊ Sheet Forming Line များ ထပ်မံဆောင်ရွက်ရုံဖြင့် ကုန်ချောသွပ်ပြား၊ ကြမ်းခင်းပြားများရရှိမည့် စက်ရုံတစ်ရုံဖြစ်၍ ထုတ်လုပ်မှုနည်းစဉ်မှာ အရိုးရှင်းဆုံးဖြစ်ပြီး မှန်ကန်မှုရှိပါသည်။

( စ ) List of Machinery (to be imported) အရ ကုန်ချောထုတ်အရေအတွက်နှင့် ဈေးနှုန်းများတင်ပြထားခြင်း၊ Raw Materials Specification များ တင်ပြထားခြင်းရှိသော်လည်း ကုန်ချော၏ Specification များ တင်ပြထားခြင်းမရှိကြောင်း တွေ့ရှိရပါသဖြင့် ထုတ်ကုန်များ၏ Specification (Size Length၊ Thickness ) များ အရည်အသွေး သတ်မှတ်ထုတ်လုပ်ရန် လိုအပ်ပါသည်။

( ဆ) ပတ်ဝန်းကျင်ဆူညံခြင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းခြင်းများမဖြစ်ပေါ်နိုင်သော်လည်း Cutting Waste များအား စနစ်တကျသိမ်းဆည်းရှင်းလင်းဆောင်ရွက်ရန်နှင့် ထုတ်လုပ်ရေးဝန်ထမ်းအားလုံး သားရေလက်အိတ်ရှည်များ၊ Safety Shoe များ မဖြစ်မနေ အသုံးပြုရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ မောင့်(န်ထ်)ထရက်ရှာကုမ္ပဏီလီမိတက်မှ ရောင်စုံအမိုးပြား၊ ကြမ်းခင်းပြားနှင့် C-Purlin မြှားတန်းများ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ အထက်ဖော်ပြပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်သွားမည်ဆိုပါက ဤဝန်ကြီး ဌာနအနေဖြင့် **ကန့်ကွက်ရန်မရှိပါကြောင်း** ပြန်ကြားအပ်ပါသည်။

၁၃.၂.၂၀၁၇

ပြည်ထောင်စုဝန်ကြီး ( ကိုယ်စား )

( သန်းသန်းလွင်၊ ဒုတိယအမြဲတမ်းအတွင်းဝန် )

မိတ္တူကို

- စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
- အမှတ်(၁)အကြီးစားစက်မှုလုပ်ငန်း
- ရုံးလက်ခံ

ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများ
ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ရင်းနှီးမြှုပ်နှံလိုသူ၏ ဆောင်ရွက်ရန်
အဆိုပြုချက်

မောင့်(န်ထ်) ထရက်ရှာ ကုမ္ပဏီ လီမိတက်

PROPOSAL OF THE INVESTOR TO MAKE
MYANMAR CITIZENS INVESTMENT IN
THE REPUPLIC OF THE UNION OF MYANMAR

**MOUNT TREASURE COMPANY LIMITED.**

# " မာတိကာ "



# MOUNT TREASURE CO.,LTD

➢ Room( E, F, G), Bldg (8/6),Shwe War Street, Saw Bwar Gyi Gone, Insein Tsp, Yangon.
Tel : 01- 9640555, 9640 666, 777, 888, 999, Fax : 01 9640777
Mobile : 09 4500 99999, 09 420719000 E-mail : mounttreasure@gmail.com
➢ No.(157), Oakthapayar Street , Thardukan Industrial Zone,Shwe Pyi Thar Tsp, Yangon.
Tel : 01 9615111, 9615222, 9615333, 9615444

---

(ဃ) ထို့အပြင်ကျွန်တော်တို့ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင်လည်းပတ်ဝန်းကျင် ညစ်ညမ်းမှုမဖြစ်ပွားစေရန်အတွက်လိုအပ်သောအစီအမံများ၊ မီးဘေးကြိုတင် ကာကွယ် မှုများ ပြု လုပ်ဆောင်ရွက်မည်ဖြစ်ပါကြောင်းနှင့် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ၏နည်းဥပဒေစည်း မျဉ်း၊ စည်းကမ်းလုပ်ထုံးလုပ်နည်းများနှင့်အညီပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန်အကောင်အထည် ဖော်ဆောင်ရွက်သွားမည်ဟု ဝန်ခံကတိပြု ပါသည်။

(င) မောင်(န်ထ်) ထရက်ရှာ ကုမ္ပဏီလီမိတက်" MOUNT TREASURE COMPANY LIMITED." အနေဖြင်စက်မှုဝန်ကြီးဌာန ၏ညွှန်ကြားချက်များကိုလိုက်နာသွားမည်ဖြစ် ကြောင်းဝန်ခံဂတိပြုပါ သည်။

ဦးဆာသရား
မန်နေဂျင်းဒါရိုက်တာ
မောင်(န်ထ်) ထရက်ရှာ ကုမ္ပဏီ လီမိတက်



# MOUNT TREASURE CO.,LTD


➤ Room( E, F, G), Bldg (8/6),Shwe War Street, Saw Bwar Gyi Gone, Insein Tsp, Yangon.
Tel : 01- 9640555, 9640 666, 777, 888, 999, Fax : 01 9640777
Mobile : 09 4500 99999, 09 420719000 E-mail : mounttreasure@gmail.com
➤ No.(157), Oakthapayar Street , Thardukan Industrial Zone,Shwe Pyi Thar Tsp, Yangon.
Tel : 01 9615111, 9615222, 9615333, 9615444


---

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ ။ ။၂၀၁၆ခုနှစ်၊ဒီဇင်ဘာလ၊ (၂၁ )ရက်။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၁)၊ ပုဒ်မ(၂၀)တို့အရ အခွန်ဆိုင်ရာကင်း လွတ်ခွင့်နှင့်သက်သာခွင့်များ လျှောက်ထားခြင်း။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေအရ တရား ဝင်ဖွဲ့စည်းတည်ထောင်ထားသည့်ကျွန်တော်တို့၏မောင့် (နံထ) ထရက်ရှာ ကုမ္ပဏီလီမိတက် "MOUNT TREASURE COMPANY LIMITED." သည် မြေတိုင်းရပ်ကွက်အမှတ်(၅၁)၊ မြေ ကွက်အမှတ် (၁၅၇)၊ဥသဖရားလမ်း၊ သာဓုကန်စက်မှုဇုန်၊ ရွှေပြည်သာမြို့နယ် ၊ ရန်ကုန်တိုင်း ဒေသကြီးတွင် COLOR ROOFING SHEET, DECKING SHEETနှင့် C- PURLIN ထုတ် လုပ်ခြင်းလုပ်ငန်းလုပ်ကိုင်မည်ဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် သို့ မြန်မာနိုင်ငံ သားများရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်ကိုလျှောက်ထားအပ်ပါသည်။

၂။ နိုင်ငံတော်အတွက် အခွန်ဘဏ္ဍာငွေများ ရရှိစေရန်အတွက်လည်းကောင်း၊ အလုပ်အကိုင်အသစ် များ ပေါ်ပေါက်လာစေရန်အတွက်လည်းကောင်း အကျိုးဖြစ်ထွန်းစေပါသည်။ သို့ဖြစ်ပါ၍ကျွန် တော်များ၏ လျှောက်ထားခြင်းကိုလက်ခံစဉ်းစားပေးပါရန်နှင့်မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၁၁)၊ ပုဒ်မ (၂၀)တို့အရအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်တို့ကိုလည်း ခံစားခွင့်ပြုပါရန်လျှောက်ထားအပ်ပါသည်။



# MOUNT TREASURE CO.,LTD

➤ Room( E, F, G), Bldg (8/6),Shwe War Street, Saw Bwar Gyi Gone, Insein Tsp, Yangon.
Tel : 01- 9640555, 9640 666, 777, 888, 999, Fax : 01 9640777
Mobile : 09 4500 99999, 09 420719000 E-mail : mounttreasure@gmail.com
➤ No.(157), Oakthapayar Street , Thardukan Industrial Zone,Shwe Pyi Thar Tsp, Yangon.
Tel : 01 9615111, 9615222, 9615333, 9615444

---

၃။ အဆိုပါရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အနေဖြင့်ခွင့်ပြုမိန့် ထုတ်ပေးပါရန် ဤလျှောက်လွှာနှင့်အတူ အောက်ဖော်ပြပါအထောက်အထားစာရွက်စာတမ်းများကို ပူးတွဲတင်ပြအပ်ပါသည်။

(၁) ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်းမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ကမကထပြုသူ၏လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုချက်။

(၂) ဘဏ္ဍာရေးအချက်အလက်များနှင့် ပတ်သက်၍တွက်ချက်မှုဇယားများ။

(၃) လုပ်ငန်းပိုင်းနှင့်ငွေကြေး အထောက်အထားများ။

(၄) သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း။

လေးစားစွာဖြင့်

ဦးဆာသရား
မန်နေဂျင်းဒါရိုက်တာ
မောင့် (န်ထ်) ထရက်ရှာ ကုမ္ပဏီ လီမိတက်

ပုံစံ (မနသ-၁)

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

ရင်းနှီးမြှုပ်နှံလိုသူ၏အဆိုပြုချက်

( ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဂ) နှင့် ပုဒ်မ ဂ )

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့။

နေ့စွဲ ။ ။ ၂၀၁၆ခုနှစ်၊ဒီဇင်ဘာလ၊ ( ၂၃ )ရက်။

ကျွန်တော်/ ကျွန်မသည်မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်းရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုပါသဖြင့်ခွင့်ပြုမိန့်ထုတ်ပေးပါရန်အောက်ပါအချက်များကိုဖော်ပြ၍လျှောက်ထားအပ်ပါသည်-

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏

(က) အမည် ဦးဆာသရား

(ခ) အဖအမည် ဦးအာလကဒ္ဒူး

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/သခန(နိုင်)၀၇၁၅၁၈

(ဃ) နေရပ်လိပ်စာ တိုက်အမှတ်(၆၅)၊ ဦးသက်တင်လမ်း၊(၇)ရပ်ကွက်၊သုံးခွမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(င) လူမျိုး၊ဘာသာ ဟိန္ဒူ၊ ဗုဒ္ဓဘာသာ

(စ) အဖွဲ့အစည်းအမည် မောင့် (န်ထိ) ထရက်ဂျာ ကုမ္ပဏီလီမိတက်

(ဆ) လုပ်ငန်းအမျိုးအစား ထုတ်လုပ်မှုလုပ်ငန်း

(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် အခန်း(၁)၊အဆောင်(၅၅)၊ ပုလဲ(၄)လမ်း၊ စော်ဘွားကြီးကုန်း ၊ အင်းစိန်မြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး။

၂။ ဖက်စပ်ပြုလုပ်၍ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုလုပ်မည့်သူများ၏

(က) အမည် (၁) ------------------------ (၂) ------------------------

(ခ) အဖအမည် (၁) ------------------------ (၂) ------------------------

(ဂ) နိုင်ငံသား/အမျိုးသား မှတ်ပုံတင်အမှတ်

(၁) ------------------------ (၂) ------------------------

(ဃ) နေရပ်လိပ်စာ (၁) ------------------------ (၂) ------------------------

(င) လူမျိုး၊ ဘာသာ (၁) ------------------------ (၂) ------------------------

(စ) အဖွဲ့အစည်းအမည် ------------------------

(ဆ) လုပ်ငန်းအမျိုးအစား

(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် ------------------------

(နှစ်ဦး သို့မဟုတ် အဖွဲ့အစည်း၂ခုထက်ပိုပါက သီးခြားစာရွက်တွင် ဖော်ပြ ပူးတွဲရန်)

၃။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား-

(က) ကုန်ထုတ်လုပ်မှု လုပ်ငန်း COLOR ROOFING SHEET (ရောင်စုံအမိုးပြား)၊DECKING SHEET(ကြမ်းခင်းပြား)နှင့် C- PURLIN (စီပါလင်းမြားတန်း)

(ခ) ဝန်ဆောင်မှုလုပ်ငန်း ------------------------

(ကုန်ပစ္စည်းအမည် သို့မဟုတ် ဝန်ဆောင်မှု အမျိုးအစားကိုဖော်ပြရန်)

၄။ လုပ်ကိုင်မည့်စီးပွားရေးပုံစံ

(က) နိုင်ငံသားနှင့် နိုင်ငံသားတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

**နိုင်ငံသားနှင့်နိုင်ငံသားအစုစပ်လုပ်ငန်း**

(ခ) အဖွဲ့အစည်းနှင့် နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

(ဂ) အဖွဲ့အစည်းနှင့် အခြားအဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်း ပုံသဏ္ဌာန်-

(က) တစ်ဦးတည်းပိုင်

(ခ) ဖက်စပ်/အစုစပ် လုပ်ငန်း

(ဂ) လီမိတက်ကုမ္ပဏီ **ကုမ္ပဏီလီမိတက်**

(ဃ) သမဝါယမအသင်း

(အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ/အများပိုင်ကုမ္ပဏီဟုဖော်ပြ၍ထည့်ဝင်မည့်မတည်ငွေရင်းအချိုးအစား၊ စီမံခန့်ခွဲမည့်သူများ၏ အမည်၊ နေရပ်လိပ်စာများနှင့်ရာထူးတို့ကို ပူးတွဲတင်ပြရန်)

၆။ ဖက်စပ်/အစုစပ်လုပ်ငန်းဖြစ်ပါက-

(က) အစုစပ်တို့က ထည့်ဝင်မည့် အစုငွေအချိုးအစားနှင့် ပမာဏ

**၆၀% + ၄၀%** **(ကျပ်သန်း ၅၀)**

(ခ) အကျိုးအမြတ်ခွဲဝေမည့် အချိုးအစား

**ထည့်ဝင်ရှယ်ယာအချိုးအစားအတိုင်းခွဲဝေခံစားပါမည်**

(ဂ) အစုဝင်များ၏တာဝန်နှင့် လုပ်ပိုင်ခွင့်များ

**ပူးတွဲ**

၇။ သမဝါယမအသင်း/လီမိတက်ကုမ္ပဏီ ဖြစ်ပါက-

(က) ခွင့်ပြုမတည်ငွေရင်း ---------- ၁၀၀,၀၀၀,၀၀၀

(ခ) အစုရှယ်ယာ အမျိုးအစား ---------- သာမန်ရှယ်ယာ

(ဂ) အစုရှယ်ယာဝင်များက ထည့်ဝင်မည့် အစုရှယ်ယာပမာဏ ---------- ၅၀,၀၀၀,၀၀၀

၈။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် အဖွဲ့အစည်းနှင့်သက်ဆိုင်သော အချက်အလက်များ-

(က) မတည်ငွေရင်းပမာဏ (ကျပ်သန်း)

(၁) ငွေပမာဏ ---------- ၁၀၀. ၀၀၀

(၂) စက်ပစ္စည်းကိရိယာများ တန်ဖိုးပမာဏ (ပြည်တွင်း) ---------- ၈၆. ၇၀၀

(ပြည်ပ) ---------- ၄၈၇. ३၅၀

(၃) အဆောက်အအုံများ/ ---------- ၃၀၀. ၀၀၀

(၄) ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်းများ တန်ဖိုးပမာဏ ---------- ၉. ၆၀၀

(၅) ကုန်ကြမ်းပစ္စည်းတန်ဖိုးပမာဏ ----------

(စုစုပေါင်း) ၉၈၃. ၆၅၀

(ခ) နိုင်ငံခြားမှ တင်သွင်းရန်လိုအပ်သည့်

| | ကျပ်(သန်း) | အမေရိကန်ဒေါ်လာ(သန်း) |
|---|---|---|
| (၁) စက်ပစ္စည်းများ၊ စက်ကရိယာများ စသည့် ပစ္စည်းတို့၏တန်ဖိုးပမာဏ | ၄၈၇. ३၅၀ | ၀. ၀၃၆ |
| (၂) ကုန်ကြမ်းပစ္စည်းများနှင့်အခြား အလားတူပစ္စည်းများ၏ တန်ဖိုး | ---------- | ---------- |
| (၃) ကျွမ်းကျင်မှုနည်းပညာရပ်များ၏ တန်ဖိုးပမာဏ | ---------- | ---------- |

(ဂ) တည်ဆောက်မှုကာလ ---------- (၂)နှစ် ပြုပြင်မွမ်းမံမှုကာလ

(ဃ) မဏာမ စူးစမ်းလေ့လာမှု ပြုလုပ်မည့်ကာလ ----------

(င) တည်ဆောက်မှု စတင်မည့်အချိန် ---------- MIC ခွင့်ပြုချက်ရရှိပြီး ( ၄ ) လ

၉။ ဆောင်ရွက်မည့် စီပွားရေးလုပ်ငန်းနှင့် သက်ဆိုင်သောအချက်အလတ်များ-

(က)လုပ်ငန်းအမျိုးအစား COLOR ROOFING SHEET (ရောင်စုံအမိုးပြား)၊ DECKING SHEET (ကြမ်းခင်းပြား)၊နှင့် C-PURLIN (စီပါလင်မြားတန်း)

(ခ)ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်ဒေသများ မြေတိုင်းရပ်ကွက်အမှတ်(၅၁)၊မြေကွက်အမှတ်(၁၅၇) ဥဿဖရားလမ်း ၊သာခုကနစက်မှုဇုန်၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး ။

(ဂ) ဆောင်ရွက်ပုံနည်းစနစ် ပြည်တွင်း ၁၀၀%အရောင်း

(ဃ) နှစ်စဉ် စက်သုံးဆီလိုအပ်ချက်-

| | အမျိုးအစား | အရေအတွက် |
|---|---|---|
| ၁။ | ဒီဇယ်ဆီ | ၂၀၀၀၀၀ ဂါလံ |
| ၂။ | ဓါတ်ဆီ | ၁၅၀၀၀၀ ဂါလံ |
| ၃။ | | |

(င) နှစ်စဉ် လျှပ်စစ်ဓာတ်အားလိုအပ်ချက်-

| | အားအသုံးပြုမှု | မြင်းကောင်ရေ |
|---|---|---|
| ၁။ | လျှပ်စစ်ဓာတ်အား | ၅၀၀၀၀ KWH |
| ၂။ | ဓာတ်ဆီ/ဒီဇယ်အင်ဂျင်စက်အင်အား | |
| ၃။ | ဘွိုင်ဘာ အသုံးပြု အင်ဂျင်စက်အား | |
| ၄။ | သဘာဝဓာတ်ငွေ့ သုံးစက်အား | |
| ၅။ | ပေးပို့သည်အခြားအား (ရေအား/လေအား စသည်များ) | |

(စ) နှစ်စဉ်ရေလိုအပ်ချက် ၃၀,၀၀၀ ဂါလံ

(နေ့စဉ် ရေလိုအပ်ချက်ရှိလျှင်ဖော်ပြရန်)

